ပုံစံ(မနသ–၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၇၈ / ၂၀၀၇ ။ ၂၀၀၇ ခုနှစ်၊ မေ လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦး လောဒီ

(ခ) အဘအမည် ဦး ဟော ရှော့ဒ်ဆီ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/ကခန(နိုင်)၀၃၂၁၃၅

(ဃ) နေရပ်လိပ်စာ အမှတ်(A/ ၇-2)၊ အနော်ရထာ ဘိတ်လမ်း၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း လင်းအောင်အင်ဒတ်စထရီရယ်အင်(န်)ပရိုဒတ်ရှင်ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co;Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား (၂၅)တန်ကျ ရေခဲစက်နှင့်တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည် ဆောက်၍ ရေခဲနှင့်ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ တောင်ကုတ်မြို့နယ်၊ ကြိုးကြာကွင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၆၇-ခ)၊ ဦးပိုင်အမှတ်(ဂ၂၂)၊

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန် ဒေါ်လာ (၈၅၀၀၀) ပါအဝင်စုစုပေါင်း ကျပ်(၁၄၃.၂၃)သန်း (ကျပ်တစ်ရာ့လေးဆယ့်သုံးသန်း၊ နှစ်သိန်း၊ သုံးသောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃ / ၂၀၀၇(မနသ)
ရန်ကုန်မြို့၊၁၃၆၉ ခုနှစ်၊ ကဆုန်လဆန်း ၉ ရက်
(၂၀၀၇ ခုနှစ်၊ ဧပြီ လ ၂၄ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd )သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ တောင်ကုတ်မြို့နယ်၊ ကြိုးကြာကွင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၆၇-ခ)၊ ဦးပိုင်အမှတ် (၈၂၂)ရှိ ကုမ္ပဏီမှ ဝယ်ယူထားသော စက်ရုံမြေ (၃.၀၁) ဧက (၁၂၈၁.၀၅ စတုရန်းမီတာ) တွင် (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀) ဆန့် အအေးခန်း စက်ရုံ တည်ဆောက်၍ ရေခဲနှင့်ငါး၊ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာပါသည်။ ယင်းတင်ပြချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၄/၂၀၀၅) (၁၉-၄-၂၀၀၅) နှင့် (၃၈/၂၀၀၆)(၁၃-၁၁-၂၀၀၆)အစည်းအဝေး၊ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂၂/၂၀၀၅)(၂၉-၆-၂၀၀၅)၊ (၄၂/၂၀၀၆) (၂၉-၁၁-၂၀၀၆) နှင့် (၇/၂၀၀၇) (၂၀-၂-၂၀၀၇)အစည်းအဝေးများ သို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှခွင့်ပြုရန်သဘောတူ ၍ (၂၉-၃-၂၀၀၇) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၁/၂၀၀၇) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့် များကို ကျင့်သုံးလျက် လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် ( Lin Aung Industrial & Production Co., Ltd )အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်း စက်ရုံ တည်ဆောက်၍ ရေခဲနှင့် ငါး၊ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ – ၆၇၈ / ၂၀၀၇ ကိုထုတ်ပေးလိုက်သည်။

၂။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇) ၊ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ လင်းအောင်အင်ဒတ်စထရီရယ်အင်(န်)ပရိုဒတ်ရှင်ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ၊ဝန်ဆောင်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော် ရမည်။

လျှို့ဝှက်

၄။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၅။ ၄င်းအပြင် လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် ( Lin Aung Industrial & Production Co., Ltd ) သည် ရခိုင်ပြည်နယ်၊သံတွဲမြို့နယ်တွင် ကော်မရှင်ခွင့်ပြုမိန့် ရယူပြီး အလားတူလုပ်ငန်းမျိုး ဆောင်ရွက်လျှက်ရှိသဖြင့် တောင်ကုတ်မြို့နယ်တွင် ဆောင်ရွက်မည့် ယခုအဆိုပြု လုပ်ငန်း၏ အခွန်ဆိုင်ရာကိစ္စရပ်များကို မြို့နယ်အလိုက် သီးခြားစီဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း လုပ်သားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd )သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊မီးဘေးအန္တရာယ် စသည်များ၊မဖြစ်ပေါ်လာစေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ပတ်ဝန်းကျင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၉။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (၃)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသလိပ်စာနှင့်ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ ( ကုမ္ပဏီ၏ ရုံးခန်း လိပ်စာ နှင့်

တယ်လီဖုန်း နံပါတ်)တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက် ကို ရယူရမည်။

၁၁။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီးဌာန များမှ ချမှတ် ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက် ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၂။ အဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်း နည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်း နိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅ (င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်းတွင် ထည့်သွင်း ခြင်းခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဦးသောင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က)/မ-၉၅၃/၂၀၀၇ ( ၁၈၆၂ )

ရက်စွဲ ၊၂၀၀၇ ခုနှစ်၊ ဧပြီ လ ၂၄ ရက် ။

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ရခိုင်ပြည်နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး။

၅။ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။

၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၁။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဘိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေး လုပ်ငန်း။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ် ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံ လုပ်ငန်း။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်။

၂၃။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၄။ ဦးစီးမှူး၊မြို့နယ်အခွန်ဦးစီးဌာန၊တောင်ကုတ်မြို့၊ရခိုင်ပြည်နယ်။

၂၅။ အုပ်ချုပ်မှုဒါရိုက်တာ၊လင်းအောင်အင်ဒတ်စထရီရယ်အင်(န်)ပရိုဒတ်ရှင်ကုမ္ပဏီလီမိတက်(Lin Aung Industrial & Production Co.,Ltd )